အကြောင်းအရာ။ ရခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Tato Enterprise Limited တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် သိုးမွေးထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Tato Enterprise Limited<br>- Mr. Pang Man Chu |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Tato (HK) Limited (ဟောင်ကောင်) ၉၉%<br>- Mr. Ngai Wing Yau (တရုတ် ) ၁% |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် သိုးမွေးထည် အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | ဦးပိုင်အမှတ်-၂၃/၁၊ အဝိုင်းရွာမကွင်း၊ ကွင်းအမှတ်-၆၅၃ ᵇ၊ အဝိုင်းကျေးရွာအုပ်စု၊ ပဲခူးမြို့၊ ပဲခူးတိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအကျယ်အဝန်း | - ဒေါ်နန့်ကျင်နွယ်<br>- မြေဧရိယာ ၇.၃၀ ဧက (၂၉,၅၄၂.၀၇၈ စတုရန်းမီတာ)<br>- စက်ရုံ အဆောက်အဦ ၁ လုံး<br>- ဝန်ထမ်းအိမ်ရာ ၂ လုံး<br>- ထမင်းစားဆောင် ၁ လုံး |
| | နှစ်စဉ်မြေငှားရမ်းခ<br>မြေ/အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - US$ ၄၄,၃၁၃ (တစ်စတုရန်းမီတာလျှင် US$ ၁.၅၀နှုန်း)<br>- ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | -၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | -US$၆.၆၆ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | |
| | ငွေသား | ၀.၁၅ |
| | စက်ပစ္စည်း (ပြည်ပဝယ်) | ၄.၅၈ |
| | ရုံးသုံး ပစ္စည်း (ပြည်တွင်း) | ၀.၀၅ |
| | မော်တော်ယာဉ် (ပြည်တွင်း) | ၀.၁၀ |
| | တည်ဆောက်မှုတန်ဖိုး | ၁.၆၀ |
| | ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း (ပြည်တွင်း) | ၀.၁၈ |
| | **စုစုပေါင်း** | **၆.၆၆** |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ၁၀၀% ပြည်ပသို့ တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၇။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | ထုတ်လုပ်မှု(pcs) ရောင်းဈေးနှုန်း(US$/pcs) |
| | (က) Men's Knitted Sweater | ၆၀၀,၀၀၀ ၂.၀၀ |
| | (ခ ) Ladies Knitted Sweater | ၁,၂၀၀,၀၀၀ ၁.၈၀ |
| | (ဂ ) Kids Knitted Sweater | ၂၀၀,၀၀၀ ၁.၂၀ |
| ၈။ | အခြားတင်ပြချက် | ပြည်တွင်း ပြည်ပ<br>**ဦးရေ** ၇၅၉ ဦး ၂၀ ဦး<br>**အမြင့်ဆုံးလစာ** ကျပ် ၄၄၀,၀၀၀ US$ ၁,၅၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀ US$ ၈၀၀<br>- ၁ US$ = ၁၃၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Tato (HK) Limitedသည် ၂၅-၁၀-၂၀၁၇ ရက်စွဲဖြင့် ဟောင်ကောင်ရှိ The Bank of East Asia, Limitedတွင် USD ဖြင့် seven digits ရှိပြီး စာရင်းသေဖွင့်လှစ်ထားရှိပါကြောင်း ထောက်ခံ တင်ပြထားပါသည်။<br>- ကုန်ကြမ်းများအား တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းမည်ဖြစ်ပြီး ထွက်ရှိလာသော ကုန်ချော များကို အမေရိကန်၊ ကနေဒါ၊ ဥရောပနှင့် ဂျပန်နိုင်ငံများသို့ ပြန်ပို့မည် ဖြစ်ပါသည်။<br>- H&M, Zara, Mango, Macy's, Lord&Taylor Brand ဖြင့် ချုပ်လုပ်မည် ဖြစ်ပါသည်။<br>- China Union (Cashmere) International Group Limited နှင့်Tato Enterprise Limited တို့ချုပ်ဆိုထားသည့် Processing Contract အား တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 1410 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြု လုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၂)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးသို့ ၂၄-၁၁-၂၀၁၇ ရက်စွဲဖြင့် သဘောထား မှတ်ချက်တောင်းခံခဲ့သော်လည်း ပြန်ကြားလာခြင်း မရှိသေးသည့် အတွက် ကော်မရှင်အနေဖြင့် လုပ်ငန်းကြန့်ကြာမှုမရှိစေရေးနှင့် အတည်ပြုလွှာ လက်ခံသည့်နေ့မှ ရက်ပေါင်း ၃၀ အတွင်း အတည်ပြုမိန့် ထုတ်ပေးနိုင်ရန်အတွက်အစည်းအဝေးသို့ တင်ပြခြင်းဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/အ-၄၆/၂၀၁၈( ၀၁၀ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Tato Enterprise Limited တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် သိုးမွေးထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ ဟောင်ကောင်ရှိ Tato (HK) Limited မှ အစုရှယ်ယာ ၉၉% နှင့် Mr. Ngai Wing Yau မှ အစုရှယ်ယာ ၁% တို့ ဖက်စပ်ပြု၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tato Enterprise Limited တည်ထောင်ကာ ဦးပိုင်အမှတ်-၂၃/၁၊ အဝိုင်းရွာမကွင်း၊ ကွင်းအမှတ်-၆၅၃ᵇ၊ အဝိုင်းကျေးရွာအုပ်စု၊ ပဲခူးမြို့၊ ပဲခူးတိုင်းဒေသကြီးရှိ မြေဧရိယာ ၇.၃၀ ဧကတွင် CMP စနစ်ဖြင့် သိုးမွေးထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်နန့်ကျင်နွယ်နှင့် Tato Enterprise Limited တို့ကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ မြေဆိုင်ရာ အထောက်အထားများ၊ အဆောက်အဦ ဓာတ်ပုံများ၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများအား ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၁၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၇.၃၀ ဧက (၂၉,၅၄၂.၀၇၈ စတုရန်းမီတာ) အား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ US$ ၄၄,၃၁၃ ဖြစ်ပြီး ၁ နှစ် တစ်စတုရန်းမီတာလျှင် US$ ၁.၅၀ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၁၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ US$ ၆.၆၆ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | US$ (သန်း) |
|---|---|
| ငွေသား | ၀.၁၅ |
| စက်ပစ္စည်း (ပြည်ပဝယ်) | ၄.၅၈ |
| ရုံးသုံး ပစ္စည်း (ပြည်တွင်း) | ၀.၀၅ |
| မော်တော်ယာဉ် (ပြည်တွင်း) | ၀.၁၀ |
| တည်ဆောက်မှုတန်ဖိုး | ၁.၆၀ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း (ပြည်တွင်း) | ၀.၁၈ |
| **စုစုပေါင်း** | **၆.၆၆** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၇၅၉ ဦးနှင့် ပြည်ပ ဝန်ထမ်း ၂၀ ဦးခန့် ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၄၄၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၈၀၀ နှင့် အမြင့်ဆုံးလစာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော အဝတ်အထည်များအား ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။ ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု(pcs) | ရောင်းဈေးနှုန်း(US$/pcs) |
|---|---|---|---|
| (က) | Men's Knitted Sweater | ၆၀၀,၀၀၀ | ၂.၀၀ |
| (ခ) | Ladies Knitted Sweater | ၁,၂၀၀,၀၀၀ | ၁.၈၀ |
| (ဂ) | Kids Knitted Sweater | ၂၀၀,၀၀၀ | ၁.၂၀ |

၈။ ငွေကြေးအထောက်အထားအဖြစ် Tato (HK) Limitedသည် ၂၅-၁၀-၂၀၁၇ ရက်စွဲဖြင့် ဟောင်ကောင်ရှိ The Bank of East Asia, Limitedတွင် USD ဖြင့် seven digits ရှိပြီး စာရင်းသေ ဖွင့်လှစ်ထားရှိပါကြောင်း ထောက်ခံတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများဇုန်(၂)တွင် ပါဝင်ကြောင်းစိစစ်တွေ့ရှိရပါသည်။

(ဃ) အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးသို့ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်နေ့ ရက်စွဲဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့သော်လည်း သဘောထားပြန်ကြားလာခြင်း မရှိသေးသည့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လုပ်ငန်းကြန့်ကြာမှု မရှိစေရေးနှင့် အတည်ပြုလွှာ လက်ခံသည့်နေ့မှ ရက်ပေါင်း ၃၀ အတွင်း အတည်ပြုမိန့်ထုတ်ပေးနိုင်ရန်အတွက် အစည်းအဝေးသို့ တင်ပြခြင်းဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tato Enterprise Limited မှ CMP စနစ်ဖြင့် သိုးမွေးထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ